ရက်စွဲ။ ၃၁- ၇-၂၀၁၈

Go Excellent (Myanmar) Co.,Ltd.နှင့် စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှတင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | အဆိုပြုချက်တင်ပြလာခြင်း | | ၄-၇-၂၀၁၈ | |
| ၂။ | လုပ်ငန်းလိုအပ်ချက်အရ သက်ဆိုင်ရာဝန်ကြီးဌာနများသို့ သဘောထားတောင်းခံခြင်း<br>- တိုင်းဒေသကြီး<br>- ပတ်ဝန်းကျင်<br>- စက်မှု<br>- ပို့/ဆက် | -<br>၉-၇-၂၀၁၈<br>၉-၇-၂၀၁၈<br>၉-၇-၂၀၁၈ | -<br>၁၂-၇-၂၀၁၈<br>၂၄-၇-၂၀၁၈<br>၂၄-၇-၂၀၁၈ | |
| ၃။ | အဆိုပြုချက်အပေါ်ပြင်ဆင် တင်ပြရမည့် အချက်များ အကြောင်းကြားခြင်း(ဥပမာ)<br>- စက်ပစ္စည်းစာရင်း<br>- မြေငှားစာချုပ်(မိတ္တူ)<br>- မြေအထောက်အထား | ၂၈-၆-၂၀၁၈ | | |
| ၄။ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးသို့ တင်ပြခြင်း | ၁၈/၂၀၁၈<br>(၉-၇-၂၀၁၈) | | |
| ၅။ | အဆိုပြုချက်အား လက်ခံကြောင်း ပြန်ကြားခြင်း | ၉-၇-၂၀၁၈ | | |
| ၆။ | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်ပေးပို့ခြင်း | ၁၃-၇-၂၀၁၈ | | |
| ၇။ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြန်လည်ပေးပို့ခြင်း | ၂၃-၇-၂၀၁၈ | | |
| ၈။ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | (၁၁/၂၀၁၈)<br>၃-၈-၂၀၁၈ | | |
| | **စုစုပေါင်းကြာမြင့်ရက်** | ၃၀ ရက် | | |

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Go Excellent (Myanmar) Co.,Ltd. တည်ထောင်ကာ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ မော်တော်ယာဉ်တပ်ဆင် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ | - Go Excellent (Myanmar) Co.,Ltd.<br>- ဦးစိုးတင့် |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Giant Motor Myanmar Co., Ltd. (Myanmar) ၇၀%<br>- Go Exim SDN.BHD.(Malaysia) ၃၀% |
| | လုပ်ငန်းအမျိုးအစား | - မော်တော်ယာဉ်တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်- ၂၇၈/၄၊ ၂၇၈/၅၊ မြေတိုင်းရပ်ကွက်အမှတ်-၂၅၊ ရွှေလင်ပန်းစက်မှုမြို့၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင်<br>မြေအကျယ်အဝန်း<br>ဆောက်လုပ်မည့်အဆောက်အဦ<br>အရေအတွက် | - ဒေါ်လှလှအေး<br>- ၃.၂၅၄ဧက (၁၃၁၆၈.၄၈ စတုရန်း မီတာ)<br>- နှစ်ထပ်အဆောက်အဦ ၁လုံး(စက်ရုံ) |
| | မြေနှင့်အဆောက်အဦငှားရမ်းခ | - တစ်နှစ်လျှင်US$၇၂,၄၂၆.၆၄<br>(တစ်စတုရန်းမီတာလျှင် US$ ၅.၅ နှုန်း) |
| | မြေ/အဆောက်အအုံ ငှားရမ်း/<br>အသုံးပြုခွင့်သက်တမ်း | - ကနဦးနှစ်၅၀ (သက်တမ်းတိုး ၁၀နှစ် ၁ကြိမ်) |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်<br>သက်တမ်း | - ကနဦးနှစ်၅၀ (သက်တမ်းတိုး ၁၀နှစ် ၁ကြိမ်) |
| ၅။ | တည်ဆောက်မှုကာလ | - ၁ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း<br>ထည့်ဝင်သည့်အမျိုးအစား | - အမေရိကန်ဒေါ်လာ ၇.၃၄ သန်း |

| အမျိုးအစား | **နိုင်ငံခြား (၃၀%)** | **မြန်မာ (၇၀%)** | **စုစုပေါင်း (US$/သန်း)** |
|---|---|---|---|
| ငွေသား | ၀.၁၅ | - | ၀.၁၅ |
| စက်ပစ္စည်းစာရင်း(ပြည်ပ) | ၀.၇၀ | - | ၀.၇၀ |
| စက်ကိရိယာစာရင်း (ပြည်တွင်း/ပြည်ပ) | ၁.၅၁ | ၄.၃၆ | ၅.၈၇ |
| ပရိဘောဂစာရင်း(ပြည်တွင်း) | - | ၀.၀၁ | ၀.၀၁ |
| ရုံးသုံးပစ္စည်းစာရင်း(ပြည်တွင်း) | - | ၀.၀၂ | ၀.၀၂ |
| မော်တော်ယာဉ်စာရင်း | - | ၀.၅၉ | ၀.၅၉ |
| **စုစုပေါင်း** | ၂.၃၆ | ၄.၉၈ | ၇.၃၄ |

| | | | |
|---|---|---|---|
| ၇။ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်း ၁၀၀ % | |
| ၈။ | ထုတ်လုပ်မှုနှင့်ရောင်းဈေးနှုန်း | **ရောင်းချမှုအရေအတွက် (စီးရေ)** | **ရောင်းဈေးနှုန်း (US$/စီးရေ)** |
| | HAVAL SUV H1 | ၂၀၀ | ၃၂,၀၀၀ |
| | HAVAL H2 LHD | ၆၇၀ | ၃၄,၀၀၀ |
| | HAVAL SUV H6 | ၆၆၀ | ၃၇,၀၀၀ |
| | HAVAL SUV H8 | ၁၂၁၀ | ၃၈,၀၀၀ |
| | HAVAL SUV H9 | ၉၀၀ | ၃၈,၀၀၀ |
| | BORGWARD BX5 | ၁၂၀၀ | ၆၅,၀၀၀ |
| | BORGWARD BX7 | ၉၀၀ | ၆၆,၀၀၀ |
| ၉။ | အခြားတင်ပြချက် | | |

| | ပြည်တွင်း | ပြည်ပ |
|---|---|---|
| **အရေအတွက်** | ၁၁၀ ဦး | ၁၃ ဦး |
| **အမြင့်ဆုံးလစာ** | ကျပ် ၁,၀၀၀,၀၀၀ | US$ ၃,၀၀၀ |
| **အနိမ့်ဆုံးလစာ** | ကျပ် ၁၅၀,၀၀၀ | US$ ၂,၀၀၀ |

- ၁ US$ = ၁၃၅၀ ကျပ် နှုန်းဖြင့် တွက်ချက်ထားပါသည်။
- ငွေကြေး အထောက်အထားအဖြစ် Go Exim SDN. BHD. အမည်ဖြင့် RHB Bank တွင် ၂၈-၂-၂၀၁၈ ရက်စွဲဖြင့် US$ ၆၆၉,၄၇၈.၇၇ ရှိကြောင်းနှင့် Giant Motor Myanmar Co., Ltd. အမည်ဖြင့် KBZ Bank တွင် ၂၀-၇-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၁၅၀,၀၀၀,၀၀၀ ရှိကြောင်း တင်ပြထားပါသည်။
- Giant Motor Myanmar Co., Ltd. နှင့် Go Exim SDN. BHD.တို့ကြား ချုပ်ဆိုထားသည့် ဖက်စပ်စာချုပ်အား တင်ပြထားပါသည်။
- Great Wall Motor Co.,Ltd. နှင့် Go Automobile Manufacturing Sdn Bhd တို့ ချုပ်ဆို ထားသည့် Supplementary Agreement (Renewal of Term and Extension for new models) နှင့် Exclusive Distribution Agreement အားတင်ပြထားပါသည်။
- Go Automobile Manufacturing Sdn. Bhd. မှ Go Exim Sdn. Bhd.သို့ HAVAL Vehicles for models H1,H2,H6,H8 &

| | | |
|---|---|---|
| | | H9 အမျိုးအစား ၅မျိုးအတွက် sole distributor and vehicle CKD or SKD assembler အတွက် ခွင့်ပြုထားသည့် Letter of Authorization တင်ပြထားပါသည်။<br>- Go Bremen Motors Sdn.Bhd. မှ Go Exim Sdn.Bhd. သို့ Borgward Vehicles for models BX5 & BX7 အမျိုးအစား ၂ မျိုးအတွက် sole distributor and vehicle CKD or SKD assembler အတွက် ခွင့်ပြုထားသည့် Letter of Authorization တင်ပြထားပါသည်။<br>- မော်တော်ယာဉ် တပ်ဆင် ထုတ်လုပ်ခြင်း လုပ်ငန်းအတွက် လိုအပ်သော စက်ပစ္စည်းများအား မလေးရှားနိုင်ငံမှ တင်သွင်း၍ ကုန်ကြမ်း အစိတ်အပိုင်း (၁၀) မျိုးအား တရုတ်ပြည်သူ့သမ္မတနိုင်ငံမှတင်သွင်းမည်ဖြစ်ပါသည်။<br>- ထုတ်လုပ်မည့် မော်တော်ယာဉ်များအား HAVAL နှင့် BORGWARD အမှတ်တံဆိပ်ဖြင့် အသုံးပြုမည်ဖြစ်ပြီး ပြည်တွင်း၌ ၁၀၀% ဖြန့်ဖြူးရောင်းချမည်ဖြစ်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေး မြှင့်တင်မည့် ကဏ္ဍတွင် ပါဝင်ပြီး ISIC 2910 တွင် အကျုံးဝင်ပါသည်။<br>- နှစ်အလိုက်ပြည်တွင်းမှ ကုန်ကြမ်းရယူအသုံးပြုမည့် အစီအစဉ်တွင် ပြည်တွင်းရှိ ကုန်ကြမ်းပစ္စည်းများအား ပထမနှစ်မှ ပဉ္စမနှစ်အထိ ၄၀%၊ ဆဌမနှစ်မှ ဒသမနှစ် အထိ ၆၀% အသုံးပြုမည်ဖြစ်ကြောင်းတင်ပြထားပါသည်။<br>- ထုတ်လုပ်မည့် မော်တော်ယာဉ်(၇)မျိုး၏ ကုန်ကြမ်းပစ္စည်းများအား SKD-2သတ်မှတ်ချက်ပါ မော်တော်ယာဉ် ကုန်ကြမ်းပစ္စည်းအစိတ်အပိုင်းအုပ်စု(၁၀)မျိုးဖြင့် တင်သွင်းထုတ်လုပ်သွားမည်ဖြစ်ပါသည်။ |
| ၁၀။ | စိစစ်တင်ပြချက် | |

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက- ၃/ခ-၀၂၁/၂၀၁၈( ၁၄၁ )

ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဩဂုတ်လ ၁ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြမည့် အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Go Excellent (Myanmar) Co., Ltd. တည်ထောင်ကာ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ မော်တော်ယာဉ် တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံရှိ Giant Motor Myanmar Co., Ltd. မှ (၇၀%) နှင့် မလေးရှားနိုင်ငံရှိ Go Exim SDN. BHD.မှ (၃၀%) တို့သည် Go Excellent (Myanmar) Co., Ltd. တည်ထောင်ကာ မြေကွက်အမှတ်- ၂၇၈/၄၊ ၂၇၈/၅၊ မြေတိုင်းရပ်ကွက်အမှတ်-၂၅၊ရွှေလင်ပန်းစက်မှုမြို့၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၃.၂၅၄ ဧက(၁၃၁၆၈.၄၈စတုရန်းမီတာ)တွင် မော်တော်ယာဉ် တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် ဒေါ်လှလှအေးနှင့် Go Excellent (Myanmar)Co.,Ltd. တို့ချုပ်ထားသည့် မြေငှားရမ်းခြင်းသဘောတူစာချုပ်နှင့် အထောက်အထားများ(မိတ္တူ)၊ Giant Motor Myanmar Co., Ltd. နှင့် Go Exim SDN. BHD.တို့ကြား ချုပ်ဆိုထားသည့် ဖက်စပ်သဘောတူစာချုပ် (မူကြမ်း)နှင့် ထုတ်လုပ်မည့် မော်တော်ကားနမူနာဓာတ်ပုံများအား တင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းနှင့် လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး၅၀နှစ် နှင့် သက်တမ်းတိုး ၁၀နှစ် ၁ကြိမ်ဖြစ်ပါသည်။ မြေဧရိယာ စုစုပေါင်း ၃.၂၅၄ ဧက(၁၃၁၆၈.၄၈စတုရန်းမီတာ)အား ငှားရမ်းဆောင်ရွက်မည်ဖြစ်ပြီးနှစ်စဉ်မြေနှင့်အဆောက် အဦငှားရမ်းခမှာ US$ ၇၂,၄၂၆.၆၄ ဖြစ်ပြီး တစ်နှစ်တစ်စတုရန်းမီတာလျှင် US$ ၅.၅နှုန်း ဖြစ်ပါသည်။

၄။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ US$ ၇.၃၄ သန်း ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | **နိုင်ငံခြား (၃၀%)** | **မြန်မာ (၇၀%)** | **စုစုပေါင်း (US$/သန်း)** |
|---|---|---|---|
| ငွေသား | ၀.၁၅ | - | ၀.၁၅ |
| စက်ပစ္စည်းစာရင်း(ပြည်ပ) | ၀.၇၀ | - | ၀.၇၀ |
| စက်ကိရိယာစာရင်း (ပြည်တွင်း/ပြည်ပ) | ၁.၅၁ | ၄.၃၆ | ၅.၈၇ |
| ပရိဘောဂစာရင်း(ပြည်တွင်း) | - | ၀.၀၁ | ၀.၀၁ |

| | | | |
|---|---|---|---|
| ရုံးသုံးပစ္စည်းစာရင်း(ပြည်တွင်း) | - | ၀.၀၂ | ၀.၀၂ |
| မော်တော်ယာဉ်စာရင်း | - | ၀.၅၉ | ၀.၅၉ |
| **စုစုပေါင်း** | ၂.၃၆ | ၄.၉၈ | ၇.၃၄ |

၅။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း ၁၁၀ ဦးနှင့် ပြည်ပဝန်ထမ်း ၁၃ ဦးခန့် ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၅၀,၀၀၀ နှင့် အမြင့်ဆုံးလစာ ကျပ် ၁,၀၀၀,၀၀၀ ဖြစ်ပြီး ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၂,၀၀၀ နှင့် အမြင့်ဆုံးလစာ US$ ၃,၀၀၀ ဖြစ်ပါသည်။

၆။ လုပ်ငန်းမှထွက်ရှိသော မော်တော်ယာဉ်များကို ပြည်တွင်းတွင် ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ ထုတ်လုပ်မှုအရေအတွက်နှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | **ရောင်းချမှုအရေအတွက် (စီးရေ)** | **ရောင်းဈေးနှုန်း (US$/စီးရေ)** |
|---|---|---|
| HAVAL SUV H1 | ၂၀၀ | ၃၂,၀၀၀ |
| HAVAL H2 LHD | ၆၇၀ | ၃၄,၀၀၀ |
| HAVAL SUV H6 | ၆၆၀ | ၃၇,၀၀၀ |
| HAVAL SUV H8 | ၁၂၀၀ | ၃၈,၀၀၀ |
| HAVAL SUV H9 | ၉၀၀ | ၃၈,၀၀၀ |
| BORGWARD BX5 | ၁၂၀၀ | ၆၅,၀၀၀ |
| BORGWARD BX7 | ၉၀၀ | ၆၆,၀၀၀ |

၇။ အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့မှ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) အစီရင်ခံစာရေးဆွဲ ဆောင်ရွက်ရန် သဘောထားပြန်ကြားထားပါသည်။

၈။ လုပ်ငန်းလိုအပ်ချက်အရ စက်မှုဝန်ကြီးဌာန၊ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနများသို့ သဘောထားတောင်းခံခဲ့ပြီး ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားခဲ့ပါသည်။

၉။ ငွေကြေး အထောက်အထားအဖြစ် Go Exim SDN. BHD. အမည်ဖြင့် RHB Bank တွင် ၂၈-၂-၂၀၁၈ ရက်စွဲဖြင့် US$ ၆၆၉,၄၇၈.၇၇ ရှိကြောင်းနှင့် Giant Motor Myanmar Co., Ltd. အမည်ဖြင့် KBZ Bank တွင် ၂၀-၇-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၁၅၀,၀၀၀,၀၀၀ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) ဥပဒေပုဒ်မ ၃၆(ဂ)အရ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း EIA ဆောင်ရွက်ရမည်ဖြစ်၍ အဆိုပြုချက်တင်ပြရမည့် လုပ်ငန်းဖြစ်ပါသည်။

(ဂ) ၂၀၁၈ ခုနှစ် ဇူလိုင်လ ၉ ရက်နေ့တွင် ကျင်းပသော အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၁၈/၂၀၁၈ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ပြီး ထုတ်လုပ်မည့်ကုန်ကြမ်းပစ္စည်းများအား SKD-2 သတ်မှတ်ချက်ပါ ပစ္စည်း အုပ်စု(၁၀)မျိုးဖြင့် တင်သွင်းမည်ဖြစ်ပါသည်။

(ဃ) စက်ပစ္စည်းများ အားမလေးရှားနိုင်ငံမှ တင်သွင်း၍ ကုန်ကြမ်း အစိတ်အပိုင်း (၁၀) မျိုးအား တရုတ် ပြည်သူ့သမ္မတနိုင်ငံမှ တင်သွင်းမည်ဖြစ်ပါသည်။

(င) နှစ်အလိုက်ပြည်တွင်းမှ ကုန်ကြမ်းရယူအသုံးပြုမည့် အစီအစဉ်တွင် ပြည်တွင်းရှိ ကုန်ကြမ်းပစ္စည်းများအား ပထမနှစ်မှ ပဥ္စမနှစ်အထိ ၄၀%၊ ဆဋ္ဌမနှစ်မှ ဒသမနှစ်အထိ ၆၀% အသုံးပြုမည်ဖြစ်ကြောင်း နောက်ဆက်တွဲ တင်ပြထားပါသည်။

(စ) HAVAL နှင့် BORGWARD အမှတ် တံဆိပ် ဖြင့် အသုံးပြုမည်ဖြစ်ပြီး ပြည်တွင်း၌ ၁၀၀% ဖြန့်ဖြူးရောင်းချမည်ဖြစ်ပါသည်။

(ဆ) Great Wall Motor Co.,Ltd. နှင့် Go Automobile Manufacturing Sdn Bhd တို့ ချုပ်ဆို ထားသည့် Supplementary Agreement (Renewal of Term and Extension for new models) နှင့် Exclusive Distribution Agreement အားတင်ပြထားပါသည်။

(ဇ) HAVAL Vehicles အမျိုးအစား ၅မျိုးအတွက် Go Automobile Manufacturing Sdn. Bhd. မှ Go Exim Sdn. Bhd.သို့ လည်းကောင်း၊ Borgward Vehicles အမျိုးအစား ၂ မျိုးအတွက် Go Bremen Motors Sdn.Bhd.မှ Go Exim Sdn.Bhd. သို့ လည်းကောင်း sole distributor and vehicle CKD or SKD assembler အတွက် ခွင့်ပြုထားသည့် Letter of Authorization တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Go Excellent (Myanmar) Co., Ltd. မှ မော်တော်ယာဉ် တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုချက်တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ( )
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

နောက်ဆက်တွဲ

| နှစ်အလိုက်ပြည်တွင်းနှင့် ပြည်ပတို့မှကုန်ကြမ်းရယူမည့်အစီအစဉ် | | | |
|---|---|---|---|
| နှစ်အလိုက် | အမျိုးအစား | ပြည်ပ | ပြည်တွင်း |
| ပထမနှစ် မှ ဒုတိယနှစ် | Battery များကိုပြည်တွင်း၌ ဝယ်ယူပြီး ကျန်အစိတ်အပိုင်းများအား SKD-2 စနစ်ဖြင့် တင်သွင်းမည်ဖြစ်ပါသည်။ | ၉၉.၈၀% | ၀.၂၀% |
| တတိယနှစ် | Battery, Tyre, Wheel Assembly များကို ပြည်တွင်း၌ ဝယ်ယူအသုံးပြုမည်ဖြစ်သည်။ | ၉၆% | ၄% |
| ပဉ္စမနှစ် | Floor, Roof, Door Assembly များကို ပြည်တွင်း၌ ဝယ်ယူအသုံးပြုမည်ဖြစ်သည်။ | ၈၀% | ၂၀% |
| ဆဋ္ဌမနှစ် | Floor Welding Assembly များကို ပြည်တွင်း၌ဝယ်ယူအသုံးပြုမည်ဖြစ်သည်။ | ၇၀% | ၃၀% |
| သတ္တမနှစ် | Roof Welding Assembly များကို ပြည်တွင်း၌ဝယ်ယူအသုံးပြုမည်ဖြစ်သည်။ | ၆၀% | ၄၀% |
| အဋ္ဌမနှစ် | Left and right side wall welding Assembly များကိုပြည်တွင်း၌ဝယ်ယူအသုံးပြုမည်ဖြစ်သည်။ | ၅၀% | ၅၀% |
| နဝမနှစ် | Left and right side door welding Assembly များကိုပြည်တွင်း၌ ဝယ်ယူအသုံးပြုမည်ဖြစ်သည်။ | ၄၀% | ၆၀% |
| ဒသမနှစ် | Complete Coating System ပြည်တွင်း၌ဆောင်ရွက်မည်။ | ၄၀% | ၆၀% |




ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁(၄၄/၁၈)
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ ဇူလိုင်လ ၁၂ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

M.696
16/7/18

အကြောင်းအရာ။ **Go Excellent (Myanmar) Co., Ltd. မှ မော်တော်ယာဉ်တပ်ဆင်ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉-၇-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက- ၃/ ခ-၀၂၁/ ၂၀၁၈(၁၁၄)

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံရှိ Giant Motor Myanmar Co., Ltd. မှ ၇၀% နှင့်မလေးရှားနိုင်ငံရှိ Go Exim SDN.BHD မှ ၃၀% ထည့်ဝင်၍ Go Excellent (Myanmar) Co., Ltd. တည်ထောင်ကာ မြေကွက်အမှတ်-၂၇၈/၄၊ ၂၇၈/၅၊ မြေတိုင်းရပ်ကွက်အမှတ်-၂၅၊ ရွှေလင်ပန်းစက်မှုမြို့၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၃.၂၅၄ ဧက (၁၃,၁၆၈.၄၇ စတုရန်းမီတာ) တွင် မော်တော်ယာဉ်တပ်ဆင် ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန်ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသောအဆိုပြုလွှာတွင်ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ(၅၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၁) ကြိမ်ဆောင်ရွက်သွားမည်ဖြစ်ကာ၊ တည်ဆောက်ရေးကာလမှာ (၁) နှစ်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအား မြေ (၁၃,၁၆၈.၄၇ စတုရန်းမီတာ) ပေါ်တွင် (၄,၂၂၃.၆၅ စတုရန်းမီတာ) ရှိ (၂) ထပ် အဆောက်အဦ (၁) လုံးတည်ဆောက်ကာ လုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်မှုအနေဖြင့် ပထမနှစ်တွင် မော်တော်ယာဉ်မော်ဒယ် (၇) မျိုးဖြစ်သည့် HAVAL SUV H1 (၂၀၀) စီး၊ HAVAL H2 LHD (၆၇၀) စီး၊ HAVAL SUV H6 (၆၆၀) စီး၊ HAVALSUV H8 (၁၂၁၀) စီး၊ HAVALSUV H9 (၉၀၀) စီး၊ BORGWARD BX 5 (၁၂၀၀) စီး၊ BORGWARD BX 7 (၉၀၀) စီးနှင့် (၁၀) နှစ်အတွင်း HAVAL SUV H1 (၄၀၀) စီး၊ HAVAL H2 LHD (၁၂၈၀) စီး၊ HAVAL SUV H6 (၁၂၆၀) စီး၊ HAVALSUV H8 (၂၀၁၀) စီး၊ HAVALSUV H9 (၁၉၀၀) စီး၊ BORGWARD BX 5 (၁၈၀၀) စီး၊ BORGWARD BX 7 (၁၃၅၀) စီးသို့တိုးမြှင့်ကာ မော်တော်ယာဉ် တပ်ဆင်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဃ) အဆိုပြုလုပ်ငန်းအတွက် လိုအပ်သော ကုန်ကြမ်းပစ္စည်းများကို ပြည်ပမှ ဝယ်ယူတင်သွင်းမည်ဖြစ်ပြီး စတုတ္ထနှစ်မှစတင်ကာ ပြည်တွင်းမှအချို့ကုန်ကြမ်းပစ္စည်းများကို ဝယ်ယူအသုံးပြုနိုင်အောင် စီစဉ်ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(စ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၃%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(ဆ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့်ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကာ လိုအပ်သော စွန့်ပစ်ရေသန့်စင်သောစနစ်ကိုလည်း တပ်ဆင်ဆောင်ရွက်မည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Go Excellent (Myanmar) Co., Ltd. မှ မော်တော်ယာဉ်တပ်ဆင်ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် အဆောက်အဦများ ဆောက်လုပ်ရန်အတွက် မြေတူးခြင်း၊ မြေသားပြုပြင်ဖော်ထုတ်ခြင်းလုပ်ငန်းများမှ ထွက်ရှိလာမည့် မြေသား အမှုန်အမွှားများနှင့် ဖုန်မှုန့်များကြောင့် လေထုညစ်ညမ်းခြင်း၊

(ခ) ဂဟေဆော်ခြင်းနှင့် စက်ပစ္စည်းကိရိယာများမှ ထွက်ရှိလာမည့် အခိုး၊ အငွေ့၊ အနံ့အသက်များနှင့် ဆေးမှုတ်ခြင်းလုပ်ငန်းများမှ ထွက်ရှိလာမည့် အနံ့အသက်များကြောင့် လေထုညစ်ညမ်းခြင်း၊ လုပ်ငန်းခွင် လုပ်သားများတွင် မျက်စေ့နှင့်အသက်ရှူလမ်းကြောင်းဆိုင်ရာ ရောဂါများဖြစ်ပွားစေနိုင်ပြီး ပတ်ဝန်းကျင်ရှိ ပြည်သူလူထုကို အနှောင့် အယှက်ဖြစ်စေနိုင်ခြင်း၊

(ဂ) အလုပ်ရုံမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများဖြစ်သော စွန့်ပစ်အရည်/အစိုင်အခဲများနှင့် ဝန်ထမ်းများ၏ မိလ္လာစွန့်ပစ်ပစ္စည်းများ၊ အရည်များကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းစေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ခြင်း၊

(ဃ) ထုတ်လုပ်မှုလုပ်ငန်းအဆင့်ဆင့်တွင် စက်ပစ္စည်းများ အသုံးပြုဆောင်ရွက်ရသဖြင့် စက်ယန္တရားများ၏စွန့်ပစ်ပစ္စည်းများဖြစ်သည့် စက်သုံးဆီ၊ ချောဆီများနှင့်ဆူညံသံများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် အသံညစ်ညမ်းမှု ဖြစ်ပေါ်နိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Go Excellent (Myanmar) Co., Ltd. မှ မော်တော်ယာဉ်တပ်ဆင်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက် စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များ ကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ် စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင် ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသား တင်အမြတ်ငွေ၏ ၃% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ် များကို တိတိကျကျ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံး လုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစုဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံ ကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်း ရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံ စာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွား မည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦး စီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်း သိမ်းရေးဝန်ကြီးဌာနသို့တင်ပြ အတည် ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအ ပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကိုဆောင် ရွက်ပြီးသယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြ ရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေး မည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများ အတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း

ဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်း တင်ပြရန်၊

(ဇ) သက်ဆိုင်ရာတိုင်းဒေသကြီး အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများကိုလည်းရယူဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၁၃ - စမ ( ၂ ) ၂၀၁၈ ( ၁၂၄၃ )
ရက် စွဲ ၊ ၂၀၁၈ ခုနှစ်၊ ဇူလိုင်လ ၂၄ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉.၇.၂၀၁၈ ရက်စွဲပါ စာအမှတ်၊ မရက-၃ / ခ - ၀၂၁ / ၂၀၁၈ ( ၁၁၈ )

၁။ Go Excellent ( Myanmar ) Co., Ltd. မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုမြို့၊ မြေတိုင်းရပ်ကွက်အမှတ် ( ၂၅ )၊ မြေကွက်အမှတ်( ၂၇၈/၄၊ ၂၇၈/၅ )၊ မြေဧရိယာ( ၃.၂၅၄ )ဧကတွင် မော်တော်ယာဉ် တပ်ဆင် ထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါ ကုမ္ပဏီမှ ဆောင်ရွက်မည့် လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) Go Excellent ( Myanmar ) Co., Ltd. မှ HAVAL SUV HI ၊ HAVAL H2 LAD ၊ HAVAL SUV H6 ၊ HAVAL SUV H8 ၊ HAVAL SUV H9 ၊ BORGWARD BX5 နှင့် BORGWARD BX7 မော်တော်ယာဉ်အမျိုးအစား( ၇ )မျိုး ထုတ်လုပ်မည် ဖြစ်ပါသည်။

( ခ ) Go Excellent ( Myanmar ) Co., Ltd. သည် မလေးရှားနိုင်ငံ Go Exim SDN.BHD Co.,Ltd. ( ၃၀% ) နှင့် မြန်မာနိုင်ငံသားပိုင်ကုမ္ပဏီဖြစ်သည့် Gaint Motor Myanmar Co.,Ltd. ( ၇၀% )တို့ဖြင့် အကျိုးတူပူးပေါင်းပြီး အဆိုပြုရင်းနှီးမြှုပ်နှံမှုပမာဏ အမေရိကန်ဒေါ်လာ ( ၇.၃၄၆၇ )သန်းဖြင့် မော်တော်ယာဉ်များ တပ်ဆင်ထုတ်လုပ်မည် ဖြစ်ပါသည်။

(ဂ) မော်တော်ယာဉ်( ၇ )မျိုးတွင် Haval နှင့် Borgward Brand ( ၂ )မျိုးဖြစ်ပြီး၊ Haval Brand အတွက်သာ Great Wall Motors of China ( GWM ) ၏ Authorizational Letter ပူးတွဲ တင်ပြထားပါသည်။

(ဃ) ကုမ္ပဏီမှ တည်ဆောက်ရေးကာလအား MIC ခွင့်ပြုချက်ရရှိပြီး ( ၁ )နှစ်ဖြင့် အဆိုပြုတင်ပြထားသဖြင့် သတ်မှတ်ကာလအတွင်း တည်ဆောက်ရေးလုပ်ငန်းများ ပြီးစီးရန်လိုအပ်ပါသည်။

(င) Annual Production Plan အရ ထုတ်လုပ်မှုစတင်မည့်နှစ်အား ဖော်ပြရန် လိုအပ်ပါသည်။

(စ) Production Capacity အနေဖြင့် ပထမနှစ်တွင် Brand အားလုံးအတွက် ( ၅,၇၄၀ )စီးမှ ပထမ( ၁၀ )နှစ်အတွက် ( ၁၀,၀၀၀ )စီးအထိ နှစ်အလိုက် တိုးမြှင့်ပြီး နောင်နှစ်များတွင် ( ၁၀,၀၀၀ )စီး ပုံမှန်ထုတ်လုပ်မည် ဖြစ်ပါသည်။

(ဆ) စတင်ထုတ်လုပ်သည့်နှစ်မှ ( ၁၀ )နှစ်မြောက်တွင် ပြည်ပမှတင်သွင်းမည့် ရာခိုင်နှုန်း( ၄၀% )နှင့် ပြည်တွင်းထုတ်လုပ်မည့် ရာခိုင်နှုန်း ( ၆၀% )အထိ နှစ်အလိုက်တိုးမြှင့်ထုတ်လုပ်သွားမည်ဖြစ်ကြောင်းတင်ပြထားမှုအရ အမှန်တကယ် ထုတ်လုပ်နိုင်ရေး အစီအစဉ်များချမှတ်ပြီး လက်တွေ့ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဇ) Process Line အဆင့်တစ်ခုချင်းအလိုက် ဖော်ပြထားသော်လည်း Production Process Flow Diagram ဖြင့် ဖော်ပြရန် လိုအပ်ပါသည်။

(ဈ) ထုတ်လုပ်မည့် မော်တော်ယာဉ်အမျိုးအစား( ၇ )မျိုးအား မူလအရည်အသွေးများကို ထိခိုက်မှုမရှိစေဘဲ ထုတ်လုပ်မှုနည်းစဉ်များနှင့်အညီ ထုတ်လုပ်ရန်နှင့် Inspection အတွက် Testing Process ပါတင်ပြချက်များအတိုင်း စနစ်တကျဆောင်ရွက်ရန် လိုအပ်ပါသည်။

(ည) မော်တော်ယာဉ်အမျိုးအစား( ၇ )မျိုးတွင် အမျိုးအစား တစ်ခုချင်းစီအတွက် Technical Data များ၊ Specification များ၊ မော်တော်ယာဉ်ပုံများ အသေးစိတ် ပူးတွဲ တင်ပြရန် လိုအပ်ပါသည်။

(ဋ) မူရင်းကုမ္ပဏီမှ Inspection Certificate များနှင့် QC Certificate ပူးတွဲ တင်ပြရန် လိုအပ်ပါသည်။

(ဌ) Testing Process တွင် ထားရှိဆောင်ရွက်မည့် Machine Facilities များ၏ Specification များ ဖော်ပြရန် လိုအပ်ပါသည်။

(ဍ) ဘေးကင်းလုံခြုံမှုရှိစေရန်၊ အရည်အသွေးမှန်ကန်မှုရှိစေရန်နှင့် သဘာဝပတ်ဝန်းကျင် ကာကွယ်ထိန်းသိမ်းနိုင်ရေး ဦးတည်ဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Go Excellent ( Myanmar ) Co., Ltd. မှ မော်တော်ယာဉ် တပ်ဆင် ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ အထက်ဖော်ပြပါ လိုအပ်ချက်များ ဖြည့်ဆည်းဆောင်ရွက်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ၊ ပုဂ္ဂလိကစက်မှု လုပ်ငန်းဥပဒေ၊ တည်ဆဲဥပဒေ စည်းမျဉ်းစည်းကမ်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် **ကန့်ကွက်ရန်မရှိပါကြောင်း** ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

အမှတ်(၁)အကြီးစားစက်မှုလုပ်ငန်း

မျှောစာတွဲ

ရုံးလက်ခံ



NPT-2759
26.7.18

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန
# ဝန်ကြီးရုံး

စာအမှတ်၊ ရထ-၂/ရန (MIC)/၂၀၁၈( ၂၀၆၇ )

ရက် စွဲ၊ ၂၀၁၈ ခုနှစ်၊ ဇူလိုင်လ ၂၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

M.738
30/7/18

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပေးပို့ရန်ကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၈ ခုနှစ်၊ ဇူလိုင်လ (၉) ရက်စွဲပါစာအမှတ်၊ မရက-၃/ခ-၀၂၁/၂၀၁၈(၁၁၇)

၁။ မြန်မာနိုင်ငံရှိ Giant Motor Myanmar Co.,Ltdမှ(၇၀%)နှင့် မလေးရှားနိုင်ငံရှိ Go Exim SN.BHD.မှ (၃၀%)တို့သည် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Go Excellent(Myanmar)Co.,Ltd တည်ထောင်ကာ မြေကွက်အမှတ်-၂၇၈/၄၊ ၂၇၈/၅၊ မြေတိုင်းရပ်ကွက်အမှတ် (၂၅)၊ ရွှေလင်ပန်းစက်မှုမြို့၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ(၃.၂၅၄)ဧက(၁၃၁၆၈.၄၈ စတုရန်းမီတာ)တွင် မော်တော်ယာဉ်တပ်ဆင်ထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် သဘောထားတောင်းခံလာပါသည်။

၂။ ပြည်တွင်း/ ပြည်ပ ကုမ္ပဏီများအနေဖြင့် CKD, SKD စနစ်အသုံးပြု၍ မော်တော်ယာဉ်များ ထုတ်လုပ်ရာတွင် အောက်ဖော်ပြပါသတ်မှတ်ချက်များအတိုင်း လိုက်နာဆောင်ရွက်ရမည် ဖြစ်ပါသည်-

(က) ASEAN Motor Vehicle Requirement Standard.

(ခ) မြန်မာနိုင်ငံသည် လက်ယာကပ်မောင်းစနစ်ကျင့်သုံးပါသဖြင့် Road Safety ဖြစ်စေရန် ယာဉ်ကြောစနစ်နှင့် လိုက်လျောညီထွေဖြစ်စေမည့် လက်ဝဲဘက်စတီယာရင်မောင်းစနစ် (Left Hand Drive) ယာဉ်များသာ ထုတ်လုပ်ရန်။

(ဂ) ထုတ်လုပ်မည့် မော်တော်ယာဉ်၏ အမျိုးအမည် ၊ အမျိုးအစားအတွက် ပုံစံအတည်ပြု သတ်မှတ်ချက်ရရှိပြီး ဖြစ်ရမည်။ ထုတ်လုပ်မည့်မော်တော်ယာဉ်နှင့် ပတ်သက်သည့် Specification များ ပြည့်စုံစွာဖော်ပြရန်။

(ဃ) အများပြည်သူဆိုင်ရာလမ်းများပေါ်တွင် အန္တရာယ်ကင်းပြီး လုံခြုံစိတ်ချစွာ မောင်းနှင်အသုံးပြုနိုင်ရေးအတွက် မော်တော်ယာဉ် စမ်းသပ်စစ်ဆေးသည့် အလုပ်ရုံ (Vehicle Testing Workshop) တွင်ရှိသော Test Lane ဖြင့် ယာဉ်ကွဲခိုင်မှုစစ်ဆေးပြီး အောင်မြင်သည့် ယာဉ်များသာ ဈေးကွက်အတွင်းသို့ဖြန့်ဖြူးရောင်းချရန်။

၃။ ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာနအနေဖြင့် SKD စနစ်ဖြင့် ထုတ်လုပ်သည့် မော်တော်ယာဉ်များ ကနဦးမှတ်ပုံတင်လုပ်ငန်းဆောင်ရွက်ပါက အောက်ပါအထောက်အထားများ ရယူစိစစ်ပါသည်-

(က) Letter of Authorization Form Origin Co.,Ltd.

(ခ) QC would be Signed by Origin Co., Ltd.

(ဂ) Both Our Inspectors (Engineers)

(ဃ) Vehicle Identification (VIN plate)

၄။ မြန်မာနိုင်ငံ၏ မော်တော်ယာဉ်ထုတ်လုပ်မှုကဏ္ဍသည် ပြည်တွင်း၌ မော်တော်ယာဉ်တစ်စီးကို ပြည့်စုံစွာထုတ်လုပ်သည့် အဆင့်မဟုတ်ဘဲ ပြည်ပတွင်ထုတ်လုပ်ပြီးဖြစ်သော မော်တော်ယာဉ် အစိတ်အပိုင်းများအား မှာယူတင်သွင်း၍ ပြန်လည်တပ်ဆင်သည့် SKD စနစ်သာဖြစ်သေးခြင်း၊ မော်တော်ယာဉ်ထုတ်လုပ်ခြင်းလုပ်ငန်းများအား ပုဂ္ဂလိကကဏ္ဍမှ စတင်ဆောင်ရွက်နေသည်မှာ မကြာမြင့်သေးခြင်းတို့ကြောင့် Self Certification စနစ်ပုံစံမျိုးအား သက်ဆိုင်ရာကုမ္ပဏီ၏ Inspection Certificate (IC) ဖြင့် မော်တော်ယာဉ်များ ထုတ်လုပ်ခွင့်ပြုခြင်းတွင် ထုတ်လုပ်ပြီးသည့် ယာဉ်အသစ်များကို Safety Standard နှင့် ကိုက်ညီမှုရှိ/ မရှိ စိစစ်ရန်အတွက် ထုတ်လုပ်ခွင့်ပြုသည့် စက်မှုဝန်ကြီးဌာန၏ ထောက်ခံချက်လိုအပ်မည်ဖြစ်ပြီး ဦးဆောင်မှုပြုလုပ်နေသော စက်မှုဝန်ကြီးဌာန၏ အကြံပြုချက်များကို အခြေခံစဉ်းစားလုပ်ဆောင်သင့်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
ဝင်းခန့်-အမြဲတမ်းအတွင်းဝန်

မိတ္တူ

ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန

ရုံးလက်ခံ

မျှောစာတွဲ